အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Maxpower (Thaketa) Co., Ltd. မှ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအား ဦးစီးဌာနပိုင် ရန်ကုန်မြို့၊ သာကေတမြို့နယ်တွင် (၅၀)မဂ္ဂါဝပ် Gas Fired Engine Power Plant တည်ဆောက်၍လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | - **Maxpower (Thaketa) Co., Ltd.** |
| | | - Mr. Arnold Henricus Theodorus Hendriks |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | | -Myanmar Power Pte., Ltd (စင်ကာပူ) ၁၀၀% |
| | လုပ်ငန်းအမျိုးအစား | - ၅၀ မဂ္ဂါဝပ် Gas Fired Engine Power Plant တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်မြို့၊ သာကေတမြို့နယ်၊ သာကေတ ဓာတ်အားပေးစက်ရုံဝင်းအတွင်း |
| | မြေပိုင်ရှင် | - လျှပ်စစ်စွမ်းအားဦးစီးဌာန |
| | မြေအကျယ်အဝန်း | - ၈၃၈၈ စတုရန်းမီတာ (၂.၀၇ ဧက) |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - US$ ၈၃၈၈ |
| | | - တစ်နှစ် တစ် စတုရန်းမီတာ US$ ၁ နှုန်း |
| ၄။ | လုပ်ငန်းသက်တမ်း | - ၃၀ နှစ် |
| | တည်ဆောက်ရေးကာလ | - ၆ လ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ထည့်ဝင်သည့်အမျိုးအစား | - US $ ၄၀.၁၁၅ သန်း (ချေးငွေ ၂၈.၀၈ သန်း အပါအဝင်) |
| | ငွေသား | US $ ၃.၉၈ သန်း |
| | စက်ပစ္စည်း | US $ ၃၆.၁၃ သန်း (US$၂၃.၄၉သန်းကြိုတင်တင်သွင်းပြီး) |
| | စုစုပေါင်း | US $ ၄၀.၁၁ သန်း |
| | | ချေးငွေအပေါ် အတိုးနှုန်းမှာ ၈% ဖြစ်ပြီး ၁၀ နှစ်အတွင်း အကြေပေးဆပ်မည် ဖြစ်ပါသည်။ |
| ၆။ | ဝန်ထမ်းအင်အား | - ၂၉ ဦး |
| | ပြည်တွင်း | - ၂၇ ဦး (အနိမ့်ဆုံး လစာမှာ US$ ၁၅၀ နှင့် အမြင့်ဆုံး လစာမှာ US$ ၃၅၀ ဖြစ်ကြောင်း ဖော်ပြထားပါသည်။) |
| | ပြည်ပ | - ၂ ဦး (အနိမ့်ဆုံး လစာ မှာ US$ ၁၀၀၀နှင့် အမြင့်ဆုံးလစာ မှာ US$ ၁၅၀၀ ဖြစ်ကြောင်း ဖော်ပြထားပါသည်။) |
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀% |
| | ရောင်းဈေးနှုန်း | - US$ ၀.၀၃၅/Kwh |

| | | |
|---|---|---|
| ၈။ | ကုမ္ပဏီ၏ဝင်ငွေ (ဆဋ္ဌမနှစ်) | - US$ ၁၂.၂၆၄ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် (ဆဋ္ဌမနှစ်) | - US$ ၁၀.၃၀၂ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဋ္ဌမနှစ်) | - US$ ၁.၉၆၂ သန်း |
| ၉။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (ဆဋ္ဌမနှစ်) | |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၀.၆၁၃ သန်း |
| | ဝင်ငွေခွန် | - US$ ၀.၂၈၀ သန်း |
| | အရင်းကြေကာလ | - ၉ နှစ်နှင့် ၁ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း(IRR) | - ၁၀.၁၃% |
| ၁၀။ | လျှပ်စစ်ဓာတ်အားသုံးစွဲမှု (နှစ်စဉ်) | - ကိုယ်ပိုင်ထုတ်လုပ်မှုမှ ၃% သုံးစွဲမည်ဖြစ်ပါသည်။ |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၁/န-၇၈၄/၂၀၁၄ ( ၅၀၈၆ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဇွန် လ ၁၀ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Maxpower (Thaketa) Co., Ltd. မှ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအားဦးစီးဌာနပိုင် ရန်ကုန်မြို့၊ သာကေတမြို့နယ်တွင် (၅၀)မဂ္ဂါဝပ် Gas Fired Engine Power Plant တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ ပြန်လည် စိစစ်သုံးသပ် တင်ပြခြင်း ကိစ္စ**

၁။ စင်ကာပူနိုင်ငံ Myanmar Power Pte., Ltd. မှ မြန်မာနိုင်ငံတွင် Maxpower (Thaketa) Co., Ltd. တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ လျှပ်စစ် စွမ်းအား ဦးစီးဌာနပိုင် ရန်ကုန်မြို့၊ သာကေတမြို့နယ်တွင် (၅၀) မဂ္ဂါဝပ် Gas Fired Engine Power Plant တည်ဆောက်၍ BOT စနစ်ဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် အဆိုပြုချက်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၀/၂၀၁၄) (၁၉-၃-၂၀၁၄) အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင် ခွင့်ပြုမိန့်ဖြင့် ဆောင်ရွက်ခွင့် ရရှိထားသည့် ကုမ္ပဏီများ၏ ဆောင်ရွက်မှု အခြေအနေတို့နှင့် အတူ Maxpower (Thaketa ) Co., Ltd. မှ တင်ပြမှုတို့ကို လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ ပြန်လည် စိစစ်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။

၂။ အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ လျှပ်စစ်စွမ်းအားဝန်ကြီးဌာနသို့ လိုအပ်သည်များအား ဆက်လက် ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားခဲ့ပါသည်။

၃။ Maxpower (Thaketa ) Co., Ltd. မှ ထုတ်လုပ်သော လျှပ်စစ်ဓါတ်အားကို ဌာနသို့ ၁၀၀%ရောင်းချမည်ဖြစ်ပြီး ထုတ်လုပ်မှုမှာ တစ်နှစ်လျှင် အနည်းဆုံး ကီလိုဝပ်နာရီ သန်းပေါင်း ၃၅၀ နှင့် ရောင်းချမည့် ဈေးနှုန်းမှာ တစ်ကီလိုဝပ်နာရီလျှင် US$ ၀.၀၃၅ ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ ချေးငွေ US$ ၂၈.၀၈ သန်း အပါအဝင် US$ ၄၀.၁၁ သန်း ဖြစ်ပြီး ငွေသား US$ ၁၄.၆၉ သန်းနှင့် စက်နှင့် စက်ပစ္စည်းတန်ဖိုး US$ ၂၅.၄၂ သန်း တို့ ဖြစ်ပါသည်။ ချေးငွေ US$ ၂၈.၀၈ သန်းကို တစ်နှစ်လျှင် အတိုးနှုန်း ၈% ဖြင့် (၁၀)နှစ် အတွင်း ပေးဆပ်မည်ဖြစ်ပါသည်။

၅။ ယခုအခါတွင် လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ စီမံကိန်းဆိုင်ရာ ပစ္စည်းတင်သွင်းခြင်း စာရင်းများကို ကုမ္ပဏီအလိုက် လိုအပ်သလို ဆောင်ရွက်နိုင်ပါရန် ပေးပို့လာပါသည်။

ကန့်သတ်

၆။ ပေးပို့လာသည့် စာရင်းများမှ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့် ရရှိထားသည့် လုပ်ငန်းများ၏ အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(အမေရိကန်ဒေါ်လာသန်းပေါင်း)

| | | | | |
|---|---|---|---|---|
| (က) | ကုမ္ပဏီအမည် | Toyo-Thai Power Myanmar Co.,Ltd. | UPP Power (Myanmar) Ltd. | Maxpower (Thaketa) Co., Ltd. |
| (ခ) | ခွင့်ပြုမိန့်အမှတ်/ ရက်စွဲ | ၅၄၈/၂၀၁၃ (၂၁-၁-၂၀၁၃) | ၆၃၁/၂၀၁၃ (၁၈-၁၀-၂၀၁၃) | (ယခုအဆိုပြုချက်) |
| (ဂ) | လုပ်ငန်းအမျိုးအစား | (၁၂၀) မဂ္ဂါဝပ်သဘာဝ ဓာတ်ငွေ့နှင့် စွန့်ပစ် အပူသုံးဓာတ်အားပေး စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချ ခြင်းလုပ်ငန်း | (၅၀) မဂ္ဂါဝပ် သဘာဝဓာတ်ငွေ့ သုံးဓာတ်အားပေး စက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း | (၅၀)မဂ္ဂါဝပ် Gas Fired Engine Power Plant တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း |
| (ဃ) | ရောင်းချမည့် ဈေးနှုန်း | US$ ၀.၀၁၃ | US$ ၀.၀၃၄ | US$ ၀.၀၃၅ |
| (င) | ရင်းနှီးမြှုပ်နှံမှု ပမာဏ | ၁၇၀.၄၂၃ | ၄၆.၅၁၁ | ၄၀.၁၁၅ |
| (စ) | မူလအဆိုပြုချက်ပါ စက်ပစ္စည်းတန်ဖိုး | ၁၃၇.၈၅၆ | ၄၁.၄၅၅ | ၂၅.၄၁၈* |
| (ဆ) | ကြိုတင်တင်သွင်းပြီး စက်ပစ္စည်းတန်ဖိုး | ၈၁.၇၄၅ | ၄၀.၆၆၃ | ၂၃.၆၅၁ |
| (ဇ) | တင်သွင်းရန်ကျန် စက်ပစ္စည်းတန်ဖိုး | ၅၆.၁၁၁ | ၀.၇၉၂ | ၁.၇၆၇ |
| (ဈ) | မြန်မာ့လျှပ်စစ်ဓာတ်အား လုပ်ငန်း နှင့် Power Purchase Agreement ချုပ်ဆိုမှု အခြေအနေ | ၄-၄-၂၀၁၄ | ၁၁-၂-၂၀၁၄ | ၇-၂-၂၀၁၄ |

* လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ Consumable & Spare Parts ပစ္စည်းအချို့အား တင်သွင်းရန် ခွင့်မပြုသဖြင့် မူလအဆိုပြုချက်ပါ စက်ပစ္စည်းတန်ဖိုး US$ ၃၆.၁၃၁သန်းမှ US$ ၂၅.၄၁၈ သန်း သို့ ပြောင်းလဲသွားခြင်း ဖြစ်ပါသည်။

၇။ Maxpower (Thaketa ) Co., Ltd. မှ အခွန်အခဆိုင်ရာ ကိစ္စရပ်များအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၈။ သို့ဖြစ်ပါ၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအား ဦးစီးဌာနပိုင် ရန်ကုန်မြို့၊ သာကေတမြို့နယ်တွင် (၅၀) မဂ္ဂါဝပ် Gas Fired Engine Power Plant တည်ဆောက်၍ BOT စနစ်ဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် အဆိုပြုချက်နှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးနိုင်ရန် သဘောတူ-မတူ။

ဉက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)



D:\Maxpower\Maxpower (MIC Issue).doc

(ဆ) ရခိုင်နှင့်ပြည်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Maxpower (Thaketa) Co., Ltd. တည်ထောင်ကာ (၅၀)မဂ္ဂါဝပ် Gas Fired Engine Power Plant ဓါတ်အားပေးစက်ရုံ စီမံကိန်းအား BOT စနစ်ဖြင့် ဆောင်ရွက်ခွင့် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ နှင့်စပ်လျဉ်း အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်-

အဆိုပြုချက် စိစစ်ရေး ရုံးအဖွဲ့ Maxpower (Thaketa) Co., Ltd.

(၁) ကနဦး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း လုပ်ငန်း (Initial Environmental Examination Impact Assessment-IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan -EMP) တို့ကို တင်ပြရန်။

(၂) သဘောထားမှတ်ချက်များ စုံလင်ပြီး တွက်ချက်ပြင်ဆင်မှုများ ပြီးစီးပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးသို့ တင်ပြရန်။

(ဇ) Yangon Concrete Co., Ltd. မှ Ready Mixed Concrete စက်ရုံ တည်ဆောက်၍ Ready Mixed Concrete, Pile, Concrete Block, Drain Cover နှင့် Fence Column တို့ကို ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက်တင်ပြခြင်း ကိစ္စကို အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်-

အဆိုပြုချက် စိစစ်ရေး ရုံးအဖွဲ့ Yangon Concrete Co., Ltd.

(၁) ရင်းနှီးမြှုပ်နှံမှု ပုံစံ(မနသ-၁)ကို ပြည့်စုံစွာ ဖြည့်စွက် ဖော်ပြပေးရန်။

(၂) ပြည်ပမှတင်သွင်းမည့် စက်ပစ္စည်းများအတွက် လိုလောက်သော နိုင်ငံခြားငွေ အထောက်အထား တင်ပြပေးရန်။

(၃) ကုန်သွယ်လုပ်ငန်းခွန်ကို လုပ်ငန်း စတင်သည့်နှစ်မှ တွက်ချက်ပေးရန်နှင့် ဆက်စပ်နေသော တွက်ချက်မှုများကို ပြန်လည်စိစစ်တင်ပြပေးရန်။

(၄) တည်ဆောက်ရေးကာလ ဖော်ပြပေးရန်။

(၅) ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination-IEE) နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး စီမံချက် (Environmental Management Plan-EMP)တို့ကို ရေးဆွဲတင်ပြရန်။

(၆) သဘောထားမှတ်ချက်များ စုံလင်ပြီး တွက်ချက် ပြင်ဆင်မှုများ ပြီးစီးပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးသို့ တင်ပြရန်။

၅

# ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | **Maxpower (Thaketa) Co., Ltd.** | **Myanmar Power Pte.,Ltd. (Incorporated in Singapore)**<br>Represented by | |
| | | (၁) Mr. Sebastiaan Pierre Sauren<br>Director<br>Netherland<br>BWHF40971 | Komp Permata Hiiau, JI Zamrud 7 Blk E No.45-46, zzpermata Hijiau, Jakarta 12210, Indonesia. |
| | | (၂) Mr. Arnold Henricus Theodorus Hendriks<br>Director<br>Netherlands<br>BXP6P5PC4 | Wijaya 3 No.09 Kebayorn Baru, Jakarta 12160, Indonesia. |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၅၀၀၃၇၀၈

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးဇော်ထွန်း

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - (၅၀) မဂ္ဂါဝပ် Gas Fired Engine Power Plant ဓါတ်အားပေးစက်ရုံ

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Maxpower (Thaketa) Co., Ltd. မှ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအား ဦးစီးဌာနပိုင် ရန်ကုန်မြို့၊ သာကေတမြို့နယ်တွင် (၅၀)မဂ္ဂါဝပ် Gas Fired Engine Power Plant တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ

| ၁။ | ကုမ္ပဏီအမည် | UPP Power (Myanmar) Ltd. | Maxpower (Thaketa) Co., Ltd. (ယခုအဆိုပြုချက်) |
|---|---|---|---|
| ၂။ | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- UPP Greentech Pte.,Ltd. (Singapore) ၉၉%<br>- UPP Holdings Ltd.(Singapore) ၁% | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>-Myanmar Power Pte., Ltd (စင်ကာပူ) ၁၀၀% |
| ၃။ | လုပ်ငန်းအမျိုးအစား | - ၅၀ မဂ္ဂါဝပ် သဘာဝ ဓာတ်ငွေ့သုံး ဓာတ်အားပေး စက်ရုံစီမံကိန်း | - ၅၀ မဂ္ဂါဝပ် Gas Fired Engine Power Plant ဓာတ်အားပေး စက်ရုံစီမံကိန်း |
| ၄။ | ရောင်းချမည့် နည်းစနစ် | - ၁၀၀% ဌာနသို့ ရောင်းချမည်ဖြစ်ပါသည်။ | - ၁၀၀% ဌာနသို့ ရောင်းချမည်ဖြစ်ပါသည်။ |
| ၅။ | တည်နေရာ | - ရန်ကုန်မြို့၊ ရွာမဓာတ်အားပေးစက်ရုံဝင်းအတွင်း | - ရန်ကုန်မြို့၊ သာကေတမြို့နယ်၊ သာကေတ ဓာတ်အားပေးစက်ရုံဝင်းအတွင်း |
| ၆။ | မြေအကျယ်အဝန်း | - ၂.၁၄၇ ဧက (၈,၆၈၃ စတုရန်းမီတာ) | - ၂.၀၇ ဧက (၈၃၈၈ စတုရန်းမီတာ) |
| ၇။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၄၆.၅၁၁ သန်း (ချေးငွေ US$ ၂၅ သန်း အပါအဝင်) | - US $ ၄၀.၁၁၅ သန်း (ချေးငွေ ၂၈.၀၈၀ သန်း အပါအဝင်) |
| | ထည့်ဝင်သည့် အမျိုးအစား | US$ (သန်း) | US$ (သန်း) |
| | ငွေသား | ၅.၀၅၅ | ၃.၉၈၄ |
| | စက်နှင့် စက်ပစ္စည်းတန်ဖိုး | ၄၁.၄၅၆ | ၃၆.၁၃၁ |
| | Value of rights which can be evaluated, such as license, trade mark, patent rigths | | |
| | စုစုပေါင်း | ၄၆.၅၁၁ | ၄၀.၁၁၅ |

| | | | |
|---|---|---|---|
| ၈။ | နှစ်စဉ်မြေငှားရမ်းခ နှုန်းထား | - US$ ၈၆၈၃<br>- တစ်နှစ် တစ်စတုရန်းမီတာလျှင်US$ ၁ နှုန်း | - US$ ၈၃၈၈<br>- တစ်နှစ် တစ် စတုရန်းမီတာ US$ ၁ နှုန်း |
| ၉။ | လုပ်ငန်းသက်တမ်း | - ၃၀ နှစ် | - ၃၀ နှစ် |
| ၁၀။ | တည်ဆောက်ရေးကာလ | - ၉ လ မှ ၁၂ လ | - ၆ လ |
| ၁၁။ | ကုမ္ပဏီ၏ ဝင်ငွေပုံမှန်နှစ်<br>အသားတင်အမြတ်(ပုံမှန်နှစ်) | - US$ ၁၁.၉ သန်း<br>- US$ ၂.၀၇၈ သန်း ( အမြတ်ရရှိသည့် နှစ်အားဖော်ပြထားခြင်းဖြစ်ပါသည်။) | - US$ ၁၂.၂၆၄ သန်း<br>- US$ ၂.၆၇၃ သန်း |
| ၁၂။ | နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ်(၆နှစ်မြောက် )<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br><br>- US$ ၀.၆၉၂ သန်း<br>- US$ ၀.၅၉၅ သန်း | <br><br>- US$ ၀.၆၁၃ သန်း<br>- US$ ၀.၂၈၀ သန်း |
| ၁၃။ | အရင်းကြေကာလ | - ၉ နှစ် | - ၉ နှစ်နှင့် ၁ လ |
| ၁၄။ | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၃.၉% | - ၁၀.၁၃% |
| ၁၅။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း<br>ပြည်ပ | - ၂၆ ဦး<br>- ၂၄ ဦး (အနိမ့်ဆုံး လစာမှာ US$ ၁၈၀ နှင့် အမြင့်ဆုံး လစာမှာ US$ ၂၄၅၅ ဖြစ်ပါသည်။)<br>- ၂ ဦး (အနိမ့်ဆုံး လစာ မှာ US$ ၄၀၀၀ နှင့် အမြင့်ဆုံး လစာမှာ US$ ၅၀၀၀ ဖြစ်ပါသည်။) | - ၂၉ ဦး<br>- ၂၇ ဦး (အနိမ့်ဆုံး လစာမှာ US$ ၁၅၀ နှင့် အမြင့်ဆုံးလစာမှာUS$၃၅၀ဖြစ်ပါသည်။)<br>- ၂ ဦး (အနိမ့်ဆုံး လစာ မှာ US$ ၁၀၀၀နှင့် အမြင့်ဆုံးလစာမှာUS$၁၅၀၀ဖြစ်ပါသည်။) |

ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၁/ န-၇၈၄ /၂၀၁၄ ( ၂၉၅၂ )
ရက်စွဲ ၊ ၂၀၁၄ ခုနှစ် မတ်လ ၁၈ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Maxpower (Thaketa) Co., Ltd. မှ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအားဦးစီးဌာနပိုင် ရန်ကုန်မြို့၊ သာကေတ မြို့နယ်တွင် (၅၀)မဂ္ဂါဝပ် Gas Fired Engine Power Plant တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ စင်ကာပူနိုင်ငံ Myanmar Power Pte., Ltd. မှ မြန်မာနိုင်ငံတွင် Maxpower (Thaketa) Co., Ltd. တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ လျှပ်စစ် စွမ်းအား ဦးစီးဌာနပိုင် ရန်ကုန်မြို့၊ သာကေတမြို့နယ်တွင် (၅၀) မဂ္ဂါဝပ် Gas Fired Engine Power Plant တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို BOT စနစ်ဖြင့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြ လာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် ၂၅/၂၀၁၃ (၂၂-၈-၂၀၁၃) မှ သဘောတူ ခွင့်ပြုချက်အရ ၂၇-၈-၂၀၁၃ ရက်စွဲဖြင့် လျှပ်စစ်စွမ်းအား ဦးစီးဌာန နှင့် Myanmar Power Pte., Ltd. တို့အကြား လက်မှတ် ရေးထိုးထားသည့် BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန် နားလည်မှု သဘောတူစာချုပ် MOA ၊ မြန်မာ့လျှပ်စစ်ဓာတ်အား လုပ်ငန်း နှင့် Maxpower (Thaketa) Co., Ltd. တို့ ချုပ်ဆိုထားသည့် Power Purchase Agreement (PPA)၊ မြေပိုင်ရှင် လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ မြန်မာ့လျှပ်စစ်ဓာတ်အား လုပ်ငန်းနှင့် Maxpower (Thaketa) Co., Ltd. တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း) တို့ကို တင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ ၂.၀၇ ဧက ( ၈၃၈၈ စတုရန်းမီတာ) ဖြစ်ပြီး မြေငှားရမ်းခမှာ တစ်နှစ်လျှင် တစ်စတုရန်းမီတာ US$ ၁ နှုန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ (၃၀)နှစ်ဖြစ်ပြီး တည်ဆောက်မှု ကာလမှာ ၆ လဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ ချေးငွေ US$ ၂၈.၀၈ သန်း အပါအဝင် US$ ၄၀.၁၁ သန်း ဖြစ်ပြီး ငွေသား US$ ၃.၉၈ သန်းနှင့် စက်နှင့် စက်ပစ္စည်းတန်ဖိုး US$ ၃၆.၁၃သန်း တို့ ဖြစ်ပါသည်။ ချေးငွေ US$ ၂၈.၀၈ သန်းကို တစ်နှစ်လျှင် အတိုးနှုန်း ၈% ဖြင့် (၁၀)နှစ် အတွင်း ပေးဆပ်မည်ဖြစ်ပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း (၂၇)ဦး နှင့် ပြည်ပ ကျွမ်းကျင်သူ (၂)ဦး စုစုပေါင်း(၂၉)ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁၅၀ နှင့် အမြင့်ဆုံး လစာမှာ US$ ၃၅၀ ဖြစ်ပြီး ပြည်ပကျွမ်းကျင်သူတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၁,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၁,၅၀၀ ဖြစ်ပါသည်။

၇။ အဆိုပြု လုပ်ငန်းမှ ထုတ်လုပ်သော လျှပ်စစ်ဓါတ်အားကို ဌာနသို့ ၁၀၀% ရောင်းချမည် ဖြစ်ပြီး ထုတ်လုပ်မှုမှာ တစ်နှစ်လျှင် အနည်းဆုံး ကီလိုဝပ်နာရီ သန်းပေါင်း ၃၅၀ နှင့် ရောင်းချမည့် ဈေးနှုန်းမှာ တစ်ကီလိုဝပ်နာရီလျှင် US$ ၀.၀၃၅ ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ကုမ္ပဏီမှရရှိမည့် အကျိုး အမြတ်မှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| | | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၂.၂၆၄ |
| (ခ) | အသုံးစရိတ် | ၁၀.၃၀၂ |
| (ဂ) | အသားတင်အမြတ် | ၁.၉၆၂ |

၉။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် US$ ၀.၆၁၃ သန်းနှင့် ဝင်ငွေခွန်US$ ၀.၂၈၀ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏အရင်းကြေကာလမှာ ၉ နှစ်နှင့် ၁ လ ဖြစ်ပြီး အရင်းအနှီး အပေါ် အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၁၀.၁၃% ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား လာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ အစည်းအဝေးအမှတ်စဉ် (၅/၂၀၁၄) (၃၀-၁-၂၀၁၄) တွင် တင်ပြခဲ့ကြောင်း၊ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိမြို့ပြစီမံကိန်းကိုထိခိုက်နိုင်ခြင်းမရှိပါကြောင်း၊ လုပ်ငန်းလည်ပတ်ပါက ပြည်တွင်းလုပ်သားအင်အား ၃၅ ဦး အလုပ်အကိုင်

ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွား ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါကြောင်း၊ မြေဌားရမ်းခ တစ်စတုရန်းမီတာလျှင် ၁ ဒေါ်လာနှုန်းဖြင့် နှစ် ၃၀ ငှားရမ်း သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိကြောင်း၊အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင်သဘာဝ ပတ်ဝန်းကျင် အားထိခိုက်မှုမရှိအောင်စီမံဆောင်ရွက်မည်ဟုတင်ပြထားပါကြောင်း၊ Maxpower Thaketa Co., Ltd. ၏ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ** အဆိုပြု လုပ်ငန်း စီမံကိန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၃၁-၁-၂၀၁၃ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ်၊ ၁/၂၀၁၃ အရ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ချက် (Environmental Impact Assessment - EIA) အစီရင်ခံစာ ပြုစု ရေးသား တင်ပြရန်၊အဆိုပါ အစီရင်ခံစာအပေါ် အခြေခံ၍ စောင့်ကြည့် လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု စီမံချက် (Environmental Management Plan - EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်နှင့် ပြဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့် အညီ လိုက်နာကျင့်သုံး အကောင် အထည်ဖော် ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ လက်ရှိတွင် EMP ကဲ့သို့ Environment Impact Prevention Program (EIPP) ကို ရေးဆွဲဆောင်ရွက်လျက်ရှိကြောင်း တင်ပြထားပါသည်။**

**နောက်ဆက်တွဲ-ခ**

၁၁။ ငွေကြေးအထောက်အထားအဖြစ် စင်္ကာပူနိုင်ငံ Standard Chartered Bank တွင် Myanmar Power Pte., Ltd. အမည်ဖြင့် ဖွင့်လှစ်ထားသည့် ဘဏ်စာရင်း မိတ္တူအား တင်ပြ ထားပါသည်။

၁၂။ Maxpower Thaketa Co., Ltd. မှ မိခင်ကုမ္ပဏီ၏ Code of Conduct နှင့် Business Ethics များအတိုင်း လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၊ Anti-Bribery & Anti - Corruption Policy အတိုင်း လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း၊ ဝန်ထမ်းများ၏ လုပ်ခ လစာ များအတွက် ဝင်ငွေခွန် ထမ်းဆောင်မည် ဖြစ်ကြောင်း ကတိဝန်ခံချက်၊ ဝန်ထမ်းများ အတွက် ကျန်းမာရေး၊ လူမှုရေး စောင့်ရှောက် ထားရှိမည့် အစီအစဉ်များနှင့် ရပ်ရွာဒေသ အကျိုးပြု အစီအစဉ် (Corporate Social Responsibility) အဖြစ် နှစ်စဉ်ရရှိသော အမြတ်ငွေမှ US$ ၁၀၀,၀၀၀ အား ရန်ပုံငွေအဖြစ် ထားရှိပြီး ကျန်းမာရေး၊ ပညာရေး၊ သာရေးနာရေးများတွင် သုံးစွဲမည် ဖြစ်ကြောင်း တင်ပြ ထားပါသည်။

၁၃။ **မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်**နှင့် ပတ်သက်၍ လုံခြုံရေးအဖွဲ့ ဖွဲ့စည်းဆောင်ရွက်မှု၊ မီးဘေးကြိုတင် ကာကွယ်ရေးအတွက် ဆောင်ရွက်ထားရှိမည့် ပုံစံ၊ မီးငြိမ်းသတ်ရေး အတွက် အဆောက်အဦများတွင် တပ်ဆင်အသုံးပြုမည့် စက်ပစ္စည်းအမျိုးအစားများ စာရင်းအား တင်ပြထားပါသည်။

၁၄။ အဆိုပြုလုပ်ငန်းအတွက် Maxpower (Thaketa) Co., Ltd.မှ တင်သွင်းမည့် စက်ပစ္စည်း US$ ၃၆.၁၃ သန်းအနက် တန်ဖိုးUS$ ၂၅.၄၁၈ သန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၈/၂၀၁၃ (၂၀-၂-၂၀၁၃) အစည်းအဝေးမှ ကြိုတင် တင်သွင်း ခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။

၁၅။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ် ၁/၂၀၁၃ အရ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ချက် ရယူရန် လိုအပ်သည့် စီးပွားရေးလုပ်ငန်းအမျိုးအစား စာရင်းတွင် ပါဝင်ပါသည်။

၁၇။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂/၂၀၁၄ (၉-၁-၂၀၁၄) အစည်းအဝေးသို့ တင်ပြ ခဲ့ပါသည်။

၁၈။ သို့ဖြစ်ပါ၍ စင်ကာပူနိုင်ငံ Myanmar Power Pte., Ltd. မှ မြန်မာနိုင်ငံတွင် Maxpower (Thaketa) Co., Ltd. တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် လျှပ်စစ် စွမ်းအားဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအားဦးစီးဌာနပိုင် ရန်ကုန်မြို့၊ သာကေတမြို့နယ်တွင် (၅၀) မဂ္ဂါဝပ် Gas Fired Engine Power Plant တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအားBOTစနစ်ဖြင့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်း အပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ ညွှန်ကြားရေးမှူးချုပ်)

Ps-9

Form (2)

# THE REPUBLIC OF THE UNION OF MYANMAR

## The Myanmar Investment Commission

## PERMIT

Permit No. 757/2014 Date 7 August 2014

This Permit is issued by the Myanmar Investment Commission according to the section 13, sub - section (b) of the Republic of the Union of Myanmar Foreign Investment Law-

(a) Name of Investor/Promoter MR. ARNOLD HENRICUS THEODORUS HENDRIKS

(b) Citizenship NETHERLANDS

(c) Address WIJAYA 3, NO. 09, KEBAYORAN BARU JAKARTA SELATAN 12160, INDONESIA

(d) Name and Address of Principle Organization MYANMAR POWER PTE LTD., 80 ROBINSON ROAD, # 02-00, SINGAPORE (068898)

(e) Place of Incorporation SINGAPORE

(f) Type of Investment Business CONSTRUCTION OF 50 MW GAS - FIRED ENGINE POWER PLANT FOR ELECTRICITY GENERATION

(g) Place(s) at which investment is permitted THAKETA POWER PLANT COMPOUND, AYERWUN STREET, 9TH QUARTER, THAKETA TOWNSHIP, YANGON REGION

(h) Amount of Foreign Capital US $ 40.11 MILLION

(i) Period for Foreign Capital brought in 4 YEARS

(j) Total amount of capital (Kyat) EQUIVALENT IN KYAT OF US $ 40.11 MILLION

(k) Construction Period 6 MONTHS

(l) Validity of investment permit 30 YEARS

(m) Form of investment WHOLLY FOREIGN OWNED INVESTMENT

(n) Name of Company incorporated in Myanmar MAXPOWER (THAKETA) CO., LTD.

Chairman

The Myanmar Investment Commission

ပုံစံ (၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၇၅၇/၂၀၁၄ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ ၇ ရက်

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၃၊ ပုဒ်မခွဲ(ခ) အရ ဤခွင့်ပြုမိန့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်က ထုတ်ပေးလိုက်သည် -

(က) ရင်းနှီးမြှုပ်နှံသူ/ကမကထပြုသူအမည် MR. ARNOLD HENRICUS THEODORUS HENDRIKS

(ခ) နိုင်ငံသား NETHERLANDS

(ဂ) နေရပ်လိပ်စာ WIJAYA 3, NO. 09, KEBAYORAN BARU JAKARTA SELATAN 12160, INDONESIA

(ဃ) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ MYANMAR POWER PTE LTD., 80 ROBINSON ROAD, # 02-00, SINGAPORE (068898)

(င) ဖွဲ့စည်းရာအရပ် SINGAPORE

(စ) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား ၅၀ မဂ္ဂါဝပ် သဘာဝဓာတ်ငွေ့သုံး ဓာတ်အားပေး စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်း

(ဆ) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) သာကေတဓာတ်အားပေး စက်ရုံဝင်း၊ ဧရာဝဏ်လမ်း၊ ၉ ရပ်ကွက်၊ သာကေတမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(ဇ) နိုင်ငံခြားမတည်ငွေရင်း ပမာဏ အမေရိကန်ဒေါ်လာ ၄၀.၁၁ သန်း

(ဈ) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီး (၄)နှစ်အတွင်း

(ည) စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်) အမေရိကန်ဒေါ်လာ ၄၀.၁၁ သန်းနှင့် ညီမျှသော မြန်မာကျပ်ငွေ

(ဋ) တည်ဆောက်မှုကာလ ၆ လ

(ဌ) ရင်းနှီးမြှုပ်နှံခွင့်ပြုသည့် သက်တမ်း ၃၀ နှစ်

(ဍ) ရင်းနှီးမြှုပ်နှံမှုပုံစံ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

(ဎ) မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် ကုမ္ပဏီအမည် MAXPOWER (THAKETA) CO., LTD.

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

Confidential

THE REPUBLIC OF THE UNION OF MYANMAR
MYANMAR INVESTMENT COMMISSION
No.1, Thitsar Road, Yankin Township, Yangon

Our ref : DICA-3/FI-784/2014( 71- E ) Tel: 01-657890
Date : 7th August 2014 Fax: 01-657825

Subject: Decision of the Myanmar Investment Commission on the Proposal for "Construction of 50 MW Gas Engine Power Plant for Electricity Generation" under the name of "Maxpower (Thaketa) Co.,Ltd."

Reference: Maxpower (Thaketa) Co.,Ltd. Letter dated (26-12-2013)

1. The Myanmar Investment Commission, at its meeting (16/2014) held on (13-6-2014) had approved the proposal for investment in "Construction of 50 MW Gas Engine Power Plant for Electricity Generation" under the name of "Maxpower (Thaketa) Co.,Ltd." submitted by Myanmar Power Pte., Ltd. 99% from Singapore and Mr. Arnold Henricus Theodorus Hendriks 1% from Indonesia as a wholly foreign owned investment.

2. Hence, the "Permit" is herewith issued in accordance with Chapter VII, section 13(b) of Foreign Investment Law and Chapter VIII, Rule 49 of the Foreign Investment Rules relating to Foreign Investment Law. Terms and conditions to the "Permit" are stated in the following paragraphs.

3. The permitted duration of the project shall be 30(Thirty) years commencing from the date of commercial operation of the first unit, and extendâble for a further period of five (5) years or until the expiration of Concession Period as specified in Power Purchase Agreement (PPA).

4. The rent for the land shall be US$ 1 (one) per square meter per year and the same rental rate shall be applied for the extension period of the land measuring 8,388 square meters (2.07) acres. Maxpower (Thaketa) Co.,Ltd. shall be applied for rental charge after the Final Commercial Operation Date of the gas fired combined cycle power plant until end of Lease Term.

5. The tariff shall be US $ 0.034 per kWh , subject to such adjustment as may be agreed with Myanma Electric Power Enterprise (MEPE) in accordance with the Power Purchase Agreement (PPA). Maxpower (Thaketa) Co.,Ltd., Ministry of Electric Power shall be responsible for supply of natural gas at no cost to the Maxpower (Thaketa) Co.,Ltd.

6. In issuing this "Permit," the Commission has granted, the followings, exemptions and reliefs as per Chapter XII, section 27(a), (h) and (i) of Foreign Investment Law. Other exemptions and reliefs under section 27 shall have to be applied upon the actual performance of the project;

(a) As per section 27(a), income tax exemption for a period of five consecutive years including the year of commencement on commercial production;

(b) As per section 27(h), exemption or relief from customs duty or other internal taxes or both on machinery, equipment, instruments, machinery components, spare parts and materials used in the business, which are imported as they are actually required for use during the period of construction of business;

(c) As per section 27(i), exemption or relief from customs duty or other internal taxes or both on raw materials imported for production for the first three-year after the completion of construction of business.

7. Maxpower (Thaketa) Co.,Ltd. shall have to sign the Land Lease Agreement with Myanma Electric Power Enterprise. After signing the Agreement, (5) copies shall have to be forwarded to the Commission.

8. Maxpower (Thaketa) Co.,Ltd. in consultation with the Department of Company Registration, Directorate of Investment and Company Administration shall have to be registered. After registration, (5) copies each of Certificate of Incorporation and Memorandum of Association and Articles of Association shall have to be forwarded to the Commission.

9. Maxpower (Thaketa) Co.,Ltd. shall abide by the terms & conditions of Memorandum of Agreement (MOA) for BOT basis signed on 27th August 2013 on power purchase from new gas generating power plant project in Yangon (Thaketa) with the Ministry of Electric Power. In addition, Maxpower (Thaketa) Co.,Ltd. shall be responsible to abide by law, rules and regulations under the Ministry of Electric Power.

10. Maxpower (Thaketa) Co.,Ltd. shall use its best efforts for timely realization of works stated in the proposal. If none of such works has been commenced within one year from the date of issue of this "Permit", it shall become null and void.

11. Maxpower (Thaketa) Co.,Ltd. has to abide by Chapter X, Rule 58 and 59 of the Foreign Investment Rules for construction period.

12. As per Chapter X, Rule 61 of the Foreign Investment Rules, extension of construction period shall not be allowed more than twice except it is due to unavoidable events such as natural disasters, instabilities, riots, strikes, a state of emergency, insurgency and outbreak of wars.

13. As per Chapter X, Rule 63 of thc Foreign Investment Rules, if the Maxpower (Thaketa) Co.,Ltd. cannot construct completely in time the construction period or extension period, the Commission will have to withdraw the permit issued to the investor and there is no refund for the expenses of the project.

14. The commercial date of operation shall be reported to the Commission.

15. Maxpower (Thaketa) Co., Ltd. shall endeavour to meet the targets on contracted generating capacity and electric power as the minimum target.

16. The Commission approves periodical appointments of foreign experts and technicians from abroad as per proposal and also in accordance with Chapter XI, section 24 and section 25 of the Foreign Investment Law and Maxpower (Thaketa) Co.,Ltd. has to follow the existing Labour Laws for the recruitment of staff and labour in accordance with Chapter XIII, Rule 84 of the Foreign Investment Rules.

17. In order to evaluate foreign capital and for the purpose of its registration in accordance with the provisions under Chapter XV, section 37 of Foreign Investment Law, it is compulsory to report as early as possible in the following manner:-

(a) the amount of foreign currency brought into Myanmar, attached with the necessary documents issued by the respective bank where the account is opened and defined under Chapter XVI, Rule 134 and 135 of the Foreign Investment Rules;

(b) the detailed lists of the type and value of foreign capital defined under Chapter I, section 2(i) of Foreign Investment Law, other than foreign currency.

18. Whenever Maxpower (Thaketa) Co.,Ltd. brings in foreign capital defined under Chapter I, section 2(i) of Foreign Investment Law, other than foreign currency in the manner stated in paragraph 17(b) mentioned above, the Inspection Certificate endorsed and issued by an internationally recognized Inspection Firm with regard to quantity, quality and price of imported materials shall have to be attached.

19. Maxpower (Thaketa) Co.,Ltd. has the right to make account transfer and expend the foreign currency from his bank account in accordance with Chapter XVI, Rule 136 of the Foreign Investment Rules and for account transfer of local currency generated from the business to the local currency account opened at the bank by a citizen or a citizen-owned business in the Union and right to transfer back the equivalent amount of foreign currency from the foreign currency bank account of a citizen or citizen-owned business by submitting the sufficient document in accordance with Chapter XVII, Rule 145 of the Foreign Investment Rules.

20. Maxpower (Thaketa) Co.,Ltd. shall report to the Commission for any alteration in the physical and financial plan of the project. Cost over-run, over and above the investment amount pledged in both local and foreign currency shall have to be reported as early as possible.

21. Maxpower (Thaketa) Co.,Ltd. shall be responsible for the preservation of the environment at and around the area of the project site. In addition to this, it shall carry out as per instructions made by Ministry of Environmental Conservation and Forestry in which to conduct Environmental Impact Assessment (EIA) Process and an Environmental Management Plan (EMP) which describe the measure to be taken for preventing, mitigation and monitoring significant environmental impacts resulting from the implementation and operation of proposed project or business or activity has to be prepared and submitted and to perform activities in accordance with this EMP and to abide by the environmental policy, Environmental Conservation Law and other environmental related rules and procedures.

22. Maxpower (Thaketa) Co.,Ltd. shall contribute minimum US$ 100,000 per annum of the annual net profit for Corporate Social Responsibility (CSR) activities in Myanmar as per Maxpower Thaketa CSR programme.

23. Maxpower (Thaketa) Co.,Ltd. shall have to abide by the Fire Services Department's rules, regulations, directives and instructions. Moreover, fire prevention measures shall have to undertake such as water storage tank, fire extinguishers and provide training to use the fire fighting equipment and also to appoint fire safety officer.

24. Payment of principal and interest of the loan as well as payment for import of raw materials and spare parts etc., shall be made out of the income of Maxpower (Thaketa) Co.,Ltd.

25. Maxpower (Thaketa) Co.,Ltd. in consultation with Myanma Insurance, shall effect such types of insurance defined under Chapter XII, Rule 79 and 80 of the Foreign Investment Rules.

(Zay Yar Aung)
Chairman

Maxpower (Thaketa) Co.,Ltd.
c/o Ministry of Electric Power

cc:
1. Office of the Government of the Republic of the Union of Myanmar
2. Office of the Yangon Region Government
3. Central Bank of Myanmar
4. Ministry of National Planning and Economic Development
5. Ministry of Finance
6. Ministry of Commerce
7. Ministry of Industry
8. Ministry of Foreign Affairs
9. Ministry of Home Affairs
10. Ministry of Immigration and Population
11. Ministry of Labour, Employment and Social Security

12. Ministry of Environmental Conservation and Forestry
13. Ministry of Energy
14. Director General, Directorate of Investment and Company Administration
15. Director General, Directorate of Industrial Supervision and Inspection
16. Director General, Customs Department
17. Director General, Internal Revenue Department
18. Director General, Directorate of Trade
19. Director General, Immigration and National Registration Department
20. Director General, Directorate of Labour
21. Director General, Department of Environmental Conservation
22. Director General, Fire Services Department
23. Director General, Department of Electric Power
24. Managing Director, Myanma Foreign Trade Bank
25. Managing Director, Myanma Investment and Commercial Bank
26. Managing Director, Myanma Insurance
27. Managing Director, Myanma Electric Power Enterprise
28. Chairman, Republic of the Union of Myanmar Federation of Chambers of Commerce and Industry(UMFCCI)

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

အမှတ် ...... ၃၂ | ၂၈ ..

နေ့စွဲ ...... ၂၄.၁၂.၁၃ ...

စာအမှတ်၊ ၂(၅) ၃ - ၁၁၁ / နပတ ( ၉၅)

ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ ဒီဇင်ဘာလ ၂၀ ရက်

အကြောင်းအရာ။ ရန်ကုန်တိုင်းဒေသကြီး၊ သာကေတတွင် တည်ဆောက်ထားသည့် (50 MW Gas – Fired Engine Power Plant အတွက် Maxpowe (Thaketa) Co., Ltd. (MTCL) နှင့် ချုပ်ဆိုမည့် Land Leas Agreement (LLA) (မူကြမ်း) အပေါ် သဘောထားမှတ်ချက် ပြန်ကြား ပေးပါရန်ကိစ္စ

ရည် ညွှန်း ချက်။ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၉-၁၂-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ၂/ CIC (စစ) / (၁၀၃၅ / ၂၀၁၃)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ သာကေတတွင် တည်ဆောက်ထားသည့် (50) MW Gas – Fired Engine Power Plant မြေငှားရမ်းရန်အတွက် မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းနှင့် Maxpower (Thaketa) Co., Ltd. (MTCL) တို့အကြား ချုပ်ဆိုမည့် Land Lease Agreement (LLA)(မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါ စာဖြင့် မေတ္တာ ရပ်ခံလာခြင်းဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာနှင့်အတူ ပူးတွဲပေးပို့လာသော မြေငှားစာချုပ်(မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း သုံးသပ်အကြံပြု အပ်ပါသည် -

(က) စာချုပ်(မူကြမ်း)၏ စာချုပ်ဝင်များအပိုဒ်ကို စာချုပ်ပုံစံကျနရေးအတွက် ပြင်ဆင် ရေးသားပေးလိုက်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) စာချုပ်ဝင်စာပိုဒ်များအောက်ရှိ တတိယအပိုဒ်တွင် စာချ အကျိုးသက်ရောက်မည့်နေ့ကို ဖော်ပြထားရာ စာချုပ်အကျိုးသက်ရောက်မ နေ့အား သီးခြားခေါင်းစဉ်ဖြင့် ဖော်ပြရန်လိုအပ်မည်ဖြစ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) စာချုပ်ဝင်စာပိုဒ်များအောက်ရှိ ဆဋ္ဌမစာပိုဒ်တွင် Less (MTCL) သည် ၅၀မဂ္ဂါဝပ်သဘာဝ ဓါတ်ငွေ့စက်ရုံအားတည်ဆောက် Lessor (ဌာန)သို့ ဓါတ်အားများရောင်းချရန်နှင့် Lessor မှ ဓါတ်အားများ Power Purchase Agreement ပါ စည်းကမ်းချက်များနှင့်အညီ ဝယ်ယူရ သဘောတူညီကြောင်း ဖော်ပြထားပါသည်။ ယခုစာချုပ်(မူကြမ်း)သည် ၅၀မဂ္ဂါဝ သဘာဝဓါတ်ငွေ့စက်ရုံအတွက် Lessee သို့ မြေငှားရမ်းခြင်းသာဖြစ် ယင်းစည်းကမ်းချက်အား ထည့်သွင်းရန် မသင့်ဟုယူဆပါသည်၊

(ဃ) စာချုပ်(မူကြမ်း)၏ WHEREAS အပိုဒ် (A) တွင် ငှားရမ်းမည့် မြေဧရိယာက ကွက်လပ်ဖြင့် ဖော်ပြထားရာ စာချုပ်ချုပ်ဆိုချိန်တွင် မြေဧရိယာအတိအကျ နှင့် မြေ၏တည်နေရာလိပ်စာအပြည့်အစုံတို့ကို ထည့်သွင်းဖော်ပြရန်နှင့် မြေစာရင်း ဌာနမှ တရားဝင်ရေး ဆွဲထားသောမြေပုံအား ပူးတွဲဖော်ပြရန် လိုအပ်ပါသည်၊

(င) စာချုပ်(မူကြမ်း) WHEREAS အပိုဒ်(B)နှင့် အပိုဒ် 3 တို့၌ ငှားရမ်းသည့် ကာလသည် စီးပွားဖြစ်စတင်ထုတ်လုပ်သည့်နေ့မှ (Power Purchase Agreement တွင် ဖေါ်ပြသကဲ့သို့) နှစ်၃၀ဖြစ်ကြောင်း ဖေါ်ပြထားရာစီးပွား ဖြစ် ထုတ်လုပ်နိုင်ခြင်းမရှိပါက ငှားရမ်းကာလစတင်နိုင်ခြင်းမရှိသည်ကို သတိ ပြုရန်ဖြစ်ပါသည်၊

(စ) စာချုပ်(မူကြမ်း) ၏ အပိုဒ် 2.1 တွင် စာချုပ်အား လက်မှတ်ရေးထိုးသည့်နေ့မှစ၍ သဘာဝဓာတ်အားပေးစက်ရုံ စီးပွားဖြစ်ထုတ် လုပ်သည့်ရက် (Until the Commercial Operation Date of the first unit of Power Plant) အထိ အခမဲ့ငှားရမ်းရမည် ဟုလည်းကောင်း၊ စီးပွားဖြစ်ထုတ်လုပ်သည့် နေ့မှစတင်၍

(the Rental Rate shall commence from the Commercial Operati Date of the first unit of the Power Plant ) ငှားရမ်းခကို ပေးဆော မည်ဟုလည်းကောင်း ဖော်ပြထားရာ အခမဲ့ငှားရမ်းခွင့်ပြုမည့် ကာလနှင့် ငှားရ ခပေးသွင်းရမည့် ကာလတို့အား Commercial Operation Date နှင့်ချိတ်ဆ ဖော်ပြထားသဖြင့် စီးပွားဖြစ်လည်ပတ်မှုမရှိပါက ငှားရမ်းခရရှိမည်မဟု ကြောင်းကို ဌာနမှသတိပြုသင့်ပါ သည်၊

(ဆ) စာချုပ်(မူကြမ်း) ၏ အပိုဒ် 2 RENT AND PAYMENT တွင် ငှားရမ်း နှုန်းထား၊ ငှားရမ်းခကင်းလွတ်ခွင့်၊ ငှားရမ်းခတိုးမြှင့်ခြင်း၊ ငှားရမ်းခပေး ရမည့်ကာလ၊ စည်းကမ်း၊ ဒဏ်ကြေးစသည့် စည်းကမ်းချက်များ ရောထွေး ဖော်ပြထားသဖြင့် သီးခြားစာပိုဒ်များဖြင့် ဖော်ပြရန်ဖြစ်ပါသည်။ ထို့အပြ ပေးသွင်းရမည့်စုစုပေါင်းငှားရမ်းခကို ဖော်ပြသင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) တွင် မြေအသုံးပြုမှုပရီမီယံကြေး (Land Use Premium ရယူထားခြင်းမရှိကြောင်း တွေ့ရှိရ၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၀ ၌ အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းပိုင် မြေများကို ငှားရမ်းရာတွင် မြေအသုံ ပြုမှု ပရီမီယံကြေးကို သက်ဆိုင်ရာအစိုးရဌာန၊ အစိုးရအဖွဲ့အစည်းက ရင်းနှီး မြှုပ်နှံသူထံမှ တောင်းခံနိုင်ကြောင်း ပြဋ္ဌာန်းထားသည်ကို သိရှိနိုင်ပါရန် ဖော်ပြ အပ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ် 4.2 တွင် ငှားရမ်းခြင်းမှ ပေါ်ပေါက်လာသော ဝင်ငွေ ခွန်အတွက်ကို ငှားရမ်းသူမှ ကင်းလွတ်ခွင့်မရပါက အငှားချထားသူမှ ပေးဆောင် ရမည်ဟူသော ဖော်ပြချက်ကို ဌာနမှ လက်ခံရန်သင့် မသင့် ပြန်လည်စိစစ်သင့် ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ် 5 THE LESSEE'S COVENANTS ငှားရမ်း သူ၏ စည်းကမ်းချက်များနှင့် လုပ်ပိုင်ခွင့် များတွင် အပိုဒ် 5-1 နှင့် 5-3 တို့

သည့် အစိပ္ပါယ်တူသည်ဟု သဘောရရှိပါသဖြင့် အပိုဒ် 5-1 ကို ပယ်ဖ
သင့်ပါ သည်၊ ထို့ပြင် ငှားရမ်းသူ၏တာဝန်များကွင်းထပ်မံ၍ စည်းကမ်းခ
များ ဖြည့်စွက်သင့်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း)၏ အပိုဒ် 6 THE LESSOR'S COVENANTS ၀
Lessor မှ ဆောင်ရွက်ရမည့် တာဝန်များကို ဖော်ပြထားရာ အငှားချထား
လိုက်နာရမည့် စည်းကမ်းများတွင် ဖော်ပြထားသော စည်းကမ်းချက်များ
ပိုင်ရှင်ဖြစ်သော အစိုးရဌာနအား စည်းနှောင်သည့်သဘောများပါရှိနေ၍ ဌာန
ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း) အပိုဒ် 7 ၏ပထမဝါကျတွင် စာချုပ်အားငှားရမ်း သက်တမ
ကုန်မှ ရပ်စဲနိုင်သည်ဟု ဖော်ပြထားချက်ကို လက်ခံရန်မသင့်ပါ။ စာချုပ်
စည်းကမ်းချက်တစ်ရပ်ရပ်ကို Lessee ဖောက်ဖျက်ပါကစာချုပ်ကို ရပ်စဲသ
ပါသည်။ ဒုတိယဝါကျ၌ အငှားချထားခြင်းခံရသူသည် Power Purchas
Agreement ပါရည်ရွယ်ချက်များကို အောင်မြင်အောင် မဆောင်ရွက်နိုင်လျှင်
သို့မဟုတ် Power Purchase Agreement ရပ်စဲခဲ့လျှင် စာချုပ်ဝင်တို့သည်
ဤစာချုပ်အရ နောက်ထပ်တာဝန်ရှိမှုတစ်စုံတစ်ရာမရှိဘဲ ဓွေးနွေးပြီး
နောက် သို့မဟုတ် အနည်းဆုံးတစ်နှစ်ဆုံးဖြတ်ပြီးနောက် အနည်းဆုံးတစ်နှစ်
တစ်ဖက်စာချုပ်ဝင်သို့စာဖြင့် အကြောင်းကြားခြင်းဖြင့် စာချုပ်ကို ရပ်စဲနိုင်
ကြောင်း ဖော်ပြထားပါသည်။ တစ်ဖက်စာချုပ်ဝင်သို့ အကြောင်းကြားရမည့်
ကာလ (တစ်နှစ်)မှာ များလွန်းသည့်အပြင် စာချုပ်ရပ်စဲခြင်းနှင့်စပ်လျဉ်း၍
ဖော်ပြထားမှုမှာရှင်းလင်းမှုမရှိဟု ယူဆပါသဖြင့် ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်
ပါသည်၊

(ဍ) စာချုပ်(မူကြမ်း) အပိုဒ် 10 Arbitration and Waiver of Immunity
အပိုဒ်ခွဲ 10-2 ၌ အငြင်းပွားမှုကို UNCITRAL Rules ဖြင့် ထိုင်းနိုင်ငံ၊

ဘန်ကောက်မြို့၌ ဖြေရှင်းမည်ဖြစ်ကြောင်းနှင့် အပိုဒ်ခွဲ 10-3 ၌ arbitrat ကို တည်ဆဲ UNCITRAL Rules နှင့်အညီ Thai Arbitration Instit က စီမံဆောင်ရွက်မည်ဖြစ်ပြီး ထိုင်းနိုင်ငံ ၊ တရားရေးဌာန ၊ Alternat Dispute Resolution Office မှ ညွှန်ကြားရေးမှူးက arbitration c ခန့်အပ်ခွင့်ရှိမည်ဖြစ်ကြောင်း ဖော်ပြထားရာမြန်မာနိုင်ငံမှ မြေကိုငှားရမ်းခြ ဖြစ်၍ မြန်မာနိုင်ငံတွင် UNCITRAL Rules ဖြင့်ဖြေရှင်းရန် တစ်ဖ စာချုပ်ဝင်နှင့်ညှိနှိုင်းသင့်ပါသည်၊

(ဃ) ယခုစာချုပ်(မူကြမ်း)သည် မြေကိုငှားရမ်းသည့်စာချုပ်သာဖြစ်၍ စာခ (မူကြမ်း) အပိုဒ်ခွဲ 10-5 (မူလ) ၌ ဌာန၏ပစ္စည်းများ (its assets) နှ စပ်လျဉ်း၍ ဖော်ပြထားရာရှင်းလင်းမှုမရှိ၍ ဌာနမှပြန်လည်စိစစ်ရန် လိုအပ် သည်၊

(ငှ) စာချုပ်(မူကြမ်း) ၌ စာချုပ်သက်တမ်းမပါရှိ၍ သီးခြား ခေါင်းစဉ်ဖြ ဖော်ပြရန်လိုအပ်ပြီး ငှားရမ်းကာလနှင့် ကိုက်ညီရန် လိုအပ်ပါသည်၊

(စ) စာချုပ်(မူကြမ်း)တွင် မလွန်ဆန်နိုင်သောဖြစ်ရပ်တို့နှင့် စပ်လျဉ်းသည့် စာပို များမပါရှိသဖြင့် အလားတူစာချုပ်များတွင် အသုံးပြုလေ့ရှိသည့် စာပိုဒ်အား Slip ကပ်ပေးလိုက်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း)တွင် အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း၊ စာချုပ်ကိုပြင်ဆင်ခြင်း ပတ်ဝန်းကျင်ထိန်းသိမ်းခြင်း၊ မြေအားပြန်လည်လွှဲပြောင်းခြင်း၊ မြေသို့ပြန်လည် ဝင်ရောက်ခွင့်၊ ကြိုတင်စည်းကမ်းသတ်မှတ်ခြင်းတို့နှင့် စပ်လျဉ်းသည် စည်းကမ်း ချက်များမပါရှိသဖြင့် မင်နီဖြင့် ရေးသားပေးလိုက်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း)ပါ နံပါတ်စဉ်များ မှန်ကန်စေရန်အတွက် ဌာနမှ ပြန်လည် စိစစ်ရန်လိုအပ်ပါ သည်၊

(စ) စာချုပ်(မူကြမ်း)ပါ ကွက်လပ်များကို စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်၊
ဖြည့်စွက်ထားရန်လိုအပ်ပါသည်၊

(န) လိုအပ်သောနေရာများတွင် မင်နီဖြင့် ပြင်ဆင်ပေးလိုက် ပါသည်။

၃။ တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရအစိုးရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟု သက်သာခွင့်မရှိသေးလျှင် တံဆိပ်ခေါင်းအက်ဥပဒေအရ ကျသင့်သောတံဆိပ်ခေါင်းခွန်ကို အငှားချထ ခြင်းခံရသူက ထမ်းဆောင်ရမည်ဖြစ်ပါသည်။

၄။ ဤစာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေး ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကိုဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်မှ နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၅။ Maxpower (Thaketa) Co., Ltd. သည် ဥပဒေအရ တရားဝင် ဖွဲ့စည်းထားသေ ကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေ အင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်း ခံရသ ဟုတ် မဟုတ် စသည့်အချက်များနှင့်စပ်လျဉ်း၍ ကြိုတင်စိစစ်ရန် လိုအပ်မည်ဖြစ်ပါသည်။

၆။ ဤစာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရေ အတွက် ဤရုံးသို့ စာချုပ်မိတ္တူ(၁)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)

( မေသီလင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ် )

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ဝန်ကြီးရုံး